# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၇၁၂ /၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...... ဒေါက်တာနုနုဝင်း

(ခ) အဘ အမည် ...... ဦးမင်းသိမ်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၀ /မလမ(နိုင်) ၁၄၃၂၄၀

(ဃ) နေရပ်လိပ်စာ ...... အမှတ်(၈၀)၊ ဆရာစံလမ်းသွယ်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...... အပြည်ပြည်ဆိုင်ရာကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် (Great International Fisheries Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...... တန်(၂၀၀)ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်ပြီး ငါး/ပုဇွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်းလုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... မြေကွက်အမှတ်(C-6,C-7,C-8)၊လပွတ္တာအအေးခန်း စက်မှုဇုန်၊လပွတ္တာမြို့သစ်၊လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်း။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၃၃၆.၅၄(သန်း) (ကျပ်သုံးရာသုံးဆယ့်ခြောက်သန်း၊ငါးသိန်း၊ လေးသောင်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၃ /၂၀၁၀ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ ပထမဝါဆိုလပြည့်ကျော် ၁၁ ရက်

(၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၇ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဒေါ်နုနုဝင်း အမည်ဖြင့် ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (C-6,C-7,C-8)၊ လပွတ္တာအအေးခန်း စက်မှုဇုန်၊ လပွတ္တာ မြို့သစ်၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းရှိ မြေ(၅.၇)ဧက(၂၄၈၂၉၂ စတုရန်းပေ)တွင် တန်(၂၀၀)ဆံ့ အအေးခန်း စက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းနှင့် ဝန်ဆောင်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၂-၄-၂၀၁၀) နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂-၆-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၁၆/၂၀၁၀)အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၄-၆-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၄/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် အပြည်ပြည် ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) အား တန်(၂၀၀)ဆံ့ အအေးခန်း စက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း နှင့် ဝန်ဆောင်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၅၂/၂၀၁၀ ကိုထုတ်ပေးလိုက်သည်။

၂။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရထုတ်လုပ်မှုနှင့်ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု၊ ဝန်ဆောင်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေးတို့အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၇။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ပတ်ဝန်းကျင် တွင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံ ပိတ်သိမ်းသည်အထိ အရေး ယူခြင်းခံရမည်။

၈။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၉။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) <u>မပျက်မကွက်</u> ပုံမှန် ပေးပို့ အစီရင်ခံရမည်။အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏

ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၁။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာ ဆောင်ရွက် ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်း သည်အထိ အရေးယူခြင်း ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ-၁၀၅၈/၂၀၁၀( ၉၇၄၉ )
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ ၇ ရက်။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

လို့ဝှက်

၅

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ဧရာဝတီတိုင်း အအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊ ပုသိမ်မြို့။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၀။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ မွေးမြူရေး နှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဥက္ကဋ္ဌပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.)

လို့ဝှက်

Great

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ / ၂၀၁၀ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ ပထမဝါဆိုလဆန်း ရက်

(၂၀၁၀ ခုနှစ်၊ ဇွန် လ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.) သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဒေါ်နုနုဝင်း အမည်ဖြင့် ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (C-6,C-7,C-8)၊ လပွတ္တာအအေးခန်း စက်မှုဇုန်၊ လပွတ္တာ မြို့သစ်၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းရှိ မြေ(၅.၇)ဧက (၂၄၈၂၉၂ စတုရန်းမီတာ)တွင် စက်ရုံတည်ဆောက် ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၂-၄-၂၀၁၀) နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂-၆-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၁၆/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ ( - ၆-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ ( /၂၀၁၀ ) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် အပြည်ပြည် ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီလီမိတက် (Great International Fisheries Co., Ltd.) အား ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- / ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီလီမိတက် (Great International Fisheries Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့် အညီ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ~~ကုမ္ပဏီ~~လီမိတက် (Great International Fisheries ~~Co.~~ Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ~~ကုမ္ပဏီ~~လီမိတက် (Great International Fisheries ~~Co.~~ Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိ ရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဒေါ်နုနုဝင်း နှင့် အငှားချထားခြင်းခံရသူ ဒေါ်ခင်မို့မို့မြိုင် [အပြည်ပြည်ဆိုင်ရာ ကြီးမား

ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.)] တို့ချုပ်ဆိုမည့် မြေ နှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရ မည်။

၈။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီလီမိတက် (Great International Fisheries Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထား သည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် တွင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံ ပိတ်သိမ်းသည်အထိ အရေး ယူခြင်းခံရမည်။

၉။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီလီမိတက် (Great International Fisheries Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၀။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီလီမိတက် (Great International Fisheries Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။အဆိုပြု

လုပ်ငန်း ၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီလီမိတက် (Great International Fisheries Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာ ဆောင်ရွက် ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်း သည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ-၆(က) /မ-၁၀၅၈/၂၀၁၀(           )

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန်      လ           ရက်။



Great

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊ ပုသိမ်မြို့။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။

~~၆။ မွေးမြူရေး နှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။~~

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

~~၁၀။~~ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

~~၁၁။~~ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

~~၁၂။~~ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

~~၁၃။~~ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၅။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

လျှို့ဝှက်

၆

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.)

လျှို့ဝှက်

Great

ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-....၇၅၂....../၂၀၁၀။ ~~၂၀၀၀ ပြည့်နှစ်~~ ၂၀၁၀ ခုနှစ်၊ ဇွန် လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ....ဒေါက်တာ နုနုဝင်း....

(ခ) အဘအမည် ....ဦးမောင် သိမ်း....

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ....၁၀/မလမ(နိုင်)၀၄၃၂၄၀....

(ဃ) နေရပ်လိပ်စာ ....အမှတ်(၈၀)၊ အာဇာလမ်း၊ မဟာနိုင်းမြို့နယ်၊ ရန်ကုန်မြို့။....

..........

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ....အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက် (Great International Fisheries Ltd.)....

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ....တန်(၂၀၀)ဆံ့ အအေးခန်း ဆက်၍ တည်ဆောက်ခြင်း/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်း....

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ....မြေကွက်အမှတ်(C-6, C-7, C-8)၊ လပွတ္တာ အအေးခန်းရှိ ဆက်မှုရုံ၊ လပွတ္တာမြို့သစ်၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်း။....

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ....၃၃၆.၅၄ (သန်း) (ကျပ် သုံးရာ့သုံးဆယ့်ခြောက်သန်း၊ ငါးသိန်း၊ လေးသောင်း ~~နှစ်ထောင်~~)....

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန် လ ရက်၊

အကြောင်းအရာ။ ။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.) မှ ငါး/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.) သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဒေါ်နုနုဝင်း အမည်ဖြင့် ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (C-6,C-7,C-8)၊ လပွတ္တာအအေးခန်း စက်မှုဇုန်၊ လပွတ္တာ မြို့သစ်၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းရှိ မြေ(၅.၇)ဧက (၂၄၈၂၉၂ စတုရန်းမီတာ) တွင် စက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂-၄-၂၀၁၀) နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂-၆-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၁၆/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ ( - ၆-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ ( /၂၀၁၀ ) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ အပြည်ပြည် ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.) အား ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် ပြုစု တင်ပြ အပ်ပါသည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

Great Ns

ရုံးတွဲ/စာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

အကြောင်းအရာ။ ။ အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Great International Fisheries Co., Ltd.) မှ ငါး/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

အထက်အကြောင်းအရာပါ ကိစ္စ နှင့် စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ( /၂၀၁၀) ( -၆-၂၀၁၀) အစည်းအဝေး ဆုံးဖြတ်ချက် အရ ... ဦး ... နှင့် အမိန့်စာ (စာကြမ်း) တို့အား ... တင်ပြအပ်ပါသည်။

၁၈/၆/၂၀၁၀
( ... )
လ/ထ ညွှန်မှူး

ညွှန်မှူး

... တင်ပြအပ်ပါသည်။

၂၀.၆.၁၀

၁၈/၆

20/6/2010

၂၁.၆

Great Ns

NRI-336
413

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
## ဝန်ကြီးရုံး

**စာအမှတ်၊** ၁ /၂၀၀(ည) / ၅၁၀၀/ ၁ ( ၁၆၆ /၂၀၁၀ )၊

**ရက်စွဲ** ၊ ၂၀၁၀ ခုနှစ်၊ မတ်လ ( ၄ )ရက်။

အကြောင်းအရာ။ ။ **အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် (Great International Fisheries Ltd) မှ တန် (၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်ပြီး၊ ငါး/ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၃-၁-၂၀၁၀ ) ရက်စွဲပါစာ အမှတ်၊ ရက - ၆(က) / မ - ၁၀၅၈ / ၂၀၁၀ ( ၅၂၂ )။

(၂) ငါးလုပ်ငန်းဦးစီးဌာန ၏ ( ၂၂-၂-၂၀၁၀ ) ရက်စွဲပါစာအမှတ်၊ ငလ / တမ - ၄ / ၂၀၀၉ - ၂၀၁၀ ( ၉၆၄ )။

၁။ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် ( Great International Fisheries Ltd ) မှ ရောဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ လပွတ္တာမြို့သစ်၊ လပွတ္တာ အအေးခန်း စက်မှုဇုန်၊ မြေကွက်အမှတ်(c-6, c-7, c-8) ရှိ မြေ (၅.၇၀)ဧကတွင် တန်(၂၀၀)ဆန့် အအေးခန်း စက်ရုံတည်ဆောက်၍ ငါး/ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်နှင့်စပ်လျဉ်း၍ စိစစ်ပြန်ကြား ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားလာပါ သည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်းရရှိနိုင်မှုအခြေအနေမှာ ရေငန်ပုစွန် တစ်နှစ်ပျမ်းမျှ(၂၅၀)တန်၊ ရေချိုပုစွန်တစ်နှစ်ပျမ်းမျှ (၇၅)တန်နှင့် ငါးတစ်နှစ် ပျမ်းမျှ (၆၅)တန်ခန့် ရရှိနိုင်မည် ဖြစ်ပါသည်။ ရေငန်ပုစွန် တစ်ရက်လျှင် (၄၃၀)ပိဿာခန့်၊

ရေချိုပုစွန် တစ်ရက်လျှင် (၁၂၀)ပိဿာခန့် နှင့် ငါးတစ်ရက်လျှင် ပိဿာ(၁၀၀)ခန့် လိုအပ် ပါကြောင်း၊ ဒေသပတ်ဝန်းကျင်တွင် ခန့်မှန်းလေ့လာချက်အရ ရေချိုရေငန်ပုစွန် တစ်ရက်ပျမ်းမျှ ပိဿာ(၅၀၀၀)ခန့် ရရှိနိုင်ကြောင်းနှင့် ငါးမျိုးစုံ တစ်ရက်ပျမ်းမျှ ပိဿာ(၃၀၀၀)ခန့် ရရှိနိုင်ကြောင်း စိစစ်သိရှိရပါသည်။ အဆိုပြုကုမ္ပဏီ၏ တင်ပြထားသော ကုန်ကြမ်း ရရှိနိုင်မှုနှင့် ကုန်ချောထုတ်လုပ်နိုင်မှု အချိုးအစားမှာ လက်တွေ့ဆောင်ရွက်ရာတွင် ကုန်ချောထုတ်လုပ်နိုင်မှုပမာဏ နည်းကြောင်း စိစစ်တွေ့ရှိရပါသည်၊

(ခ) ကုန်ကြမ်းလိုအပ်ချက်အပိုင်းတွင် အဆိုပြုချက်ပါ တင်ပြချက်ထက် ဒေသတွင်ပိုမိုရရှိနိုင်ကြောင်း စိစစ်သိရှိရပါသည်။ ကုန်ချောထုတ်လုပ်နိုင်မှုအပိုင်းတွင် ရေချို/ရေငန်ပုစွန် တစ်နှစ်တန်(၂၆၀)ခန့် တင်ပို့နိုင်မည်ဟု ဖော်ပြထားသဖြင့် တစ်ရက်(၀.၁၇)တန် ထုတ်လုပ်နိုင်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုတွင် အဆိုပြုချက်ပါ ထုတ်လုပ်မှုပမာဏ နည်းနေကြောင်း၊ ကုန်ကြမ်း ရရှိမှုပေါ်မူတည်၍ ကုန်ချော ပိုမိုထုတ်လုပ်နိုင်မည် ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(ဂ) ကုန်ကြမ်း ဈေးနှုန်းမှာ ရေချိုရေငန်ပုစွန် တစ်တန်လျှင် ကျပ် (၃၅)သိန်းဖြစ်၍ တစ်ပိဿာလျှင် ကျပ်(၅၅၀ဝ/-) ငါးတစ်တန်လျှင် ကျပ်သိန်း(၂၀)ဖြစ်၍တစ်ပိဿာလျှင် ကျပ်(၃၂၀ဝ/-)ဖြင့် ဖော်ပြထားကြောင်း၊ စိစစ်လေ့လာချက်အရ ရေချိုရေငန်ပုစွန် ပျမ်းမျှ တစ်ပိဿာကျပ်(၇၅၀ဝ/-)ခန့်၊ ငါး ပျမ်းမျှတစ်ပိဿာ ကျပ်(၅၅၀ဝ/-)ခန့် ရှိပါကြောင်း၊ ကုန်ချောဈေးနှုန်းမှာ အဆိုပြုချက်တွင် ပြည်ပ ရောင်းဈေး ရေချိုရေငန်ပုစွန် တစ်တန်လျှင် US$(၅၅၀၀)ခန့်နှင့် ငါးဈေးနှုန်း တစ်တန်လျှင် US$(၁၂၀၀) ခန့်ဖော်ပြထားပါကြောင်း၊ ပြည်ပပို့ကုန်ဈေးနှုန်းအရ ရေချိုရေငန်ပုစွန် တစ်တန်လျှင် ပျမ်းမျှ US$(၆၀၀၀) အထက်ရှိပါကြောင်း နှင့် ငါးတစ်တန်လျှင် ပျမ်းမျှ US$ (၃၀၀၀)ခန့်ရှိသဖြင့် ဈေးနှုန်းကွဲလွဲမှု အနည်းငယ်ရှိကြောင်း စိစစ်တင်ပြအပ်ပါ သည်၊

(ဃ) စက်ရုံတွင်တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန်စက်၏ capacity မှာ ငါးပြုပြင် ထုတ်လုပ်ရန်အတွက် Blast Freezer (ZT/6 hrs) 1 No. နှင့် ပုစွန်ပြုပြင် ထုတ်လုပ်မည့် Contact Freezer (0.5 T/90 min) 2 Nos တပ်ဆင်မည် ဖြစ်ကြောင်း၊ အဆိုပါစက်များ၏ capacity အရ အနည်းဆုံး တစ်နေ့ ငါး 4T နှင့် ပုစွန် 1.5T ခန့် ထုတ်လုပ်နိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

(င) အဆိုပါ စက်များကို ကိုင်တွယ်မောင်းနှင်ရန် အင်ဂျင်နီယာ(၃)ဦး၊ စက်မောင်း (၃)ဦး နှင့် ကုန်ချောပစ္စည်းထမ်းပိုးဆောင်ရွက်ရန် ကျွမ်းကျင်လုပ်သားနှင့်တစ်ဝက်တစ်ပျက် ကျွမ်းကျင်လုပ်သား (၁၄၅)ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ကြောင်း နှင့် စက်မောင်း (၃)ဦးမှာ အရေအတွက်နည်း၍ နောက်ထပ် (၃)ဦး ဖြည့်စွက်ခန့်ရန်လိုအပ်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီညွတ်မှုရှိပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

၃။ အထက်အပိုဒ်(၂)ပါ စိစစ်ချက်အပြင် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှုနည်းပညာများကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုတင်ပြသည့် စက်ရုံတည်ဆောက်မည့် မြေနေရာမှာ ရွှေးမြစ်ကမ်းနံဘေးတွင် ဖြစ်၍ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အနံ့ဆိုးများ သန့်စင်သောစနစ်/ ရေဆိုး သန့်စင်သောစနစ် (Waste Water Treatment System) ဆောင်ရွက်ရန် အဆင်ပြေသဖြင့် စက်ရုံဆောက်လုပ်ရန် သင့်လျော်မှုရှိပါသည်၊ မီးဘေးကြိုတင် ကာကွယ်မှုများ၊ ဆောင်ရွက်ထားရှိမှုကို စိစစ်တွေ့ရှိရပါသည်။

(ခ) လပွတ္တာမြို့သစ် အအေးခန်းစက်မှုဇုန်တွင် အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် ( Great International Fisheries Ltd ) အပါအဝင် အအေးခန်းစက်ရုံတည်ဆောက်ရန် တင်ပြလျှောက်ထားသော ကုမ္ပဏီများမှာ (၄)ခု ရှိပါသည်။ ကျန်ကုမ္ပဏီများမှာ ဝါဝါဝင်းကုမ္ပဏီ၊ TZTM ကုမ္ပဏီနှင့် ရွှေယမုန် ကုမ္ပဏီတို့ဖြစ်ပါသည်။ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သောရေလုပ်ငန်း လီမိတက် ( Great International Fisheries Ltd ) အနေဖြင့် ၂၀၁၀ ပြည့်နှစ်၊ မတ်လအတွင်း စက်ရုံတည်ဆောက်မှု လုပ်ငန်းများကို စတင်ဆောင်ရွက်မည် ဖြစ်ကြောင်း ညှိနှိုင်းသိရှိရပါသည်။

(ဂ) အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် ( Great International Fisheries Ltd ) ရောဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ လပွတ္တာမြို့သစ်တွင် ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ (Fish Meal Plant) နှင့် ရေခဲစက်ရုံ (Ice Making Plant)တည်ဆောက်ခြင်းအတွက် ရောဝတီတိုင်းအတွင်းရှိ ဒေသခံလုပ်သားများအတွက် အလုပ်အကိုင်သစ်များ ရရှိမည်ဖြစ်ခြင်း၊ ရေလုပ်ငန်းဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှုဖြစ်စေခြင်းအပြင်၊ ဒေသဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှုဖြစ်ပေါ်လာပြီး အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် ( Great International Fisheries Ltd ) မှ တန် (၂၀၀)ဆံ့ အအေးခန်းစက်ရုံတည်ဆောက်ပြီး၊ ငါး/ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( မြတ်ကျော်၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

(၂) အုပ်ချုပ်မှုဒါရိုက်တာ၊ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သောရေလုပ်ငန်းလီမိတက် (Great International Fisheries Ltd )

ကိုကျော်မြန်မြင့်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**

**ငါးလုပ်ငန်းဦးစီးဌာန**

စာအမှတ်၊ ငလ/တမ-၄/၂၀၀၉-၂၀၁၀(၉၆၄)

ရက်စွဲ၊၂၀၁၀ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

အကြောင်းအရာ။ **<u>အပြည်ပြည်ဆိုင်ရာကြီးမားကျယ်ပြန့်သောရေလုပ်ငန်းလီမိတက် ( Great International Fisheries Limited ) မှ တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်ပြီး ငါး/ပုစွန်ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>**

ရည်ညွှန်းချက်။ (၁)အပြည်ပြည်ဆိုင်ရာကြီးမားကျယ်ပြန့်သောရေလုပ်ငန်းလီမိတက်( Great International Fisheries Limited ) ၏(၁.၁.၂၀၁၀)ရက်စွဲပါ၊ တင်ပြစာ

(၂)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃.၁.၂၀၁၀)ရက်စွဲပါ၊ စာအမှတ်၊ရက-၆(က)/ မ-၁၀၅၈/၂၀၁၀ (၅၂၂)

(၃)မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ (၁၄.၁.၂၀၁၀)ရက်စွဲပါ၊ စာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/၁( ၂၉ /၂၀၁၀)

၁။ အပြည်ပြည်ဆိုင်ရာကြီးမားကျယ်ပြန့်သောရေလုပ်ငန်းလီမိတက် "Great International Fisheries Limited " သည် ဧရာဝတီတိုင်း၊လပွတ္တာမြို့နယ်၊လပွတ္တာမြို့သစ်၊ လပွတ္တာအအေးခန်းစက်မှုဇုန်၊မြေကွက်အမှတ် ( C-6, C-7, C-8 )ရှိ မြေ(၅.၇၀)ဧကတွင် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ တင်ပြလာသည့်အဆိုပြုချက်အပေါ်မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၂)ပါ စာဖြင့် အကြောင်းကြားလာပါသည်။

၃။ အဆိုပြုချက် လုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအချက်များအား စိစစ်လေ့လာပြီး တင်ပြပေးပါရန် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် အကြောင်းကြားလာပါသည်-

(က) နှစ်စဉ်ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိ – မရှိ

(ခ) ကုန်ကြမ်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ – မရှိ

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/ လူအင်အား အချိုးအစားညီမျှမှု ရှိ – မရှိ

၄၃၃
၁၅.၂.၁၀

၄။ အထက်ပါအချက်များအပြင် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှု နည်းပညာပိုင်းဆိုင်ရာ အချက်အလက်များကိုပါ အထူးပြုပြန်ကြားပေးပါရန် လမ်းညွှန်မှုပြုခဲ့ပါသည်။

၅။ အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်ခြင်း၊ ငါး/ပုစွန်ပြုပြင်အေးခဲခြင်းလုပ်ငန်းကို ဆောင်ရွက်မည့်ဒေသသို့ကွင်းဆင်းစစ်ဆေးပြီး တွေ့ရှိချက်များကို အောက်ပါအတိုင်း စီစစ်တင်ပြအပ်ပါသည်-

(က)အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်းရရှိနိုင်မှု အခြေအနေမှာ ရေငန်ပုစွန် တစ်နှစ်လျှင် ပျှမ်းမျှ(၂၅၀)တန်၊ရေချိုပုစွန် တနှစ်လျှင် ပျှမ်းမျှ(၇၅)တန်နှင့် ငါး တနှစ်လျှင် ပျှမ်းမျှ(၆၅)တန်ခန့်ရရှိနိုင်မည်ဟု စီစစ်တွေ့ရှိရပါသည်။အဆိုပါကိန်းဂဏန်းပေါ်အခြေခံ၍ တွက်ချက်ကြည့်ပါကရေငန်ပုစွန်သည် တရက်(၄၃၀)ပိဿာခန့်၊ ရေချိုပုစွန်သည် တရက် (၁၂၀)ပိဿာခန့်နှင့် ငါးသည် တစ်ရက်လျှင် ပိဿာ(၁၀၀)ခန့် ရရှိရန်လိုအပ်ကြောင်းစီစစ် စီစစ်တွေ့ရှိရပါသည်။ ဒေသပတ်ဝန်းကျင်တွင် စုံစမ်းလေ့လာချက်အရ ရေချို/ရေငန်ပုစွန် သည် တရက်လျှင် ပျှမ်းမျှ ( ၅၀၀၀ ) ပိဿာခန့် ရရှိနိုင်ကြောင်းနှင့် ငါးမျိုးစုံ ပျမ်းမျှ တရက်လျှင် ပိဿာ (၃၀၀၀)ခန့် ရရှိနိုင်ကြောင်း စီစစ်သိရှိရပါသည်။ ရေငန်ပုစွန်တွင် ပုစွန်ကျားထုပ်၊ မီးနီ နှင့် ဘော့ချိပ် အမျိုးအစားများပါဝင်ပါသည်၊ ငါးမျိုးစုံဆိုသည်မှာ ကကတစ် ၊ ကသပေါင်း၊ ကက္ကရံ၊ ငါးသလောက်၊ ငါးပုတ်သင်၊ ငါးမုတ် ၊ ငါးတန် စသည့်ငါးများပါဝင်ပါသည်။ထို့ကြောင့်ကုန်ကြမ်းလိုအပ်ချက်အပိုင်းတွင် အဆိုပြုချက်ပါ တင်ပြချက်ထက် ဒေသတွင်ပိုမိုရရှိနိုင်ကြောင်း စီစစ်သိရှိရပါသည်။ ကုန်ချော ထုတ်လုပ် နိုင်မှုအပိုင်းတွင် ရေချို / ရေငန်ပုစွန် တနှစ် တန်(၂၆၀)ခန့် တင်ပို့နိုင်မည်ဟု ဖော်ပြ ထား၍ တရက်လျှင်(၀.၇)တန်သာ ထုတ်လုပ်မည်ဖြစ်ကြောင်းနှင့် ငါးမှာ တနှစ်(၅၂)တန် တင်ပို့မည်ဟု ဖော်ပြထားသဖြင့် တရက် (၀.၁၇)တန်သာ ထုတ်လုပ်မည်ဟု တွက်ချက် သိရှိရပါသည်။ကုန်ချောထုတ်လုပ်မှုအပိုင်းတွင်လည်းအဆိုပြုချက်တွင်တင်ပြထားသည်မှာ ထုတ်လုပ်မှုပမာဏ နည်းနေကြောင်း စီစစ်တွေ့ရှိရပြီး ကုန်ကြမ်းရရှိမှုအပေါ်တွင်မူတည်၍ ကုန်ချော ပိုမိုထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း စီစစ်တင်ပြအပ်ပါသည်။

(ခ) အဆိုပြုချက်တွင်ဖော်ပြထားသော ကုန်ကြမ်းဈေးနှုန်းမှာ ရေချို/ရေငန်ပုစွန် တတန်လျှင် ကျပ် (၃၅)သိန်း ဖြစ်၍ တပိဿာလျှင် ကျပ် (၅၅၀၀ိ/-)ဈေးခန့်ရှိကြောင်း စီစစ်သိရှိ ရပါသည်။ငါးမှာ တတန်လျှင် ကျပ်သိန်း (၂၀)ဖြစ်၍ တပိဿာလျှင် ကျပ်(၃၂၀၀ိ/-) ခန့်ဖြစ်ကြောင်းစီစစ်သိရှိရပါသည်။ဒေသတွင်လေ့လာစုံစမ်းချက်အရ ရေချို/ရေငန်ပုစွန် ပျှမ်းမျှဈေးနှုန်းမှာတပိဿာလျှင် ကျပ်(၇၅၀၀ိ/-)ခန့်ရှိပြီး၊ငါးဈေးနှုန်းမှာ တပိဿာလျှင် ကျပ် (၅၅၀၀ိ/-) ခန့်ရှိကြောင်း စီစစ်သိရှိရပါသည်။ ကုန်ချောဈေးနှုန်းများမှာ အဆိုပြု ချက်တွင် ပြည်ပရောင်းဈေး ရေချို / ရေငန်ပုစွန် တတန်လျှင် US$(၅၅၀၀)ခန့်နှင့်

ငါးဈေးနှုန်းမှာ တတန်လျှင် US$ ၁၂၀၀)ခန့်ဖြင့် ဖော်ပြထားကြောင်း သိရှိရပါသည်။ ပြည်ပပို့ကုန်ဈေးနှုန်းများကို စီစစ်လေ့လာချက်အရ ရေချို/ရေငန်ပုစွန် တတန်လျှင် ပျှမ်းမျှUS$(၆၀၀၀)အထက်တွင် ရှိကြောင်းနှင့် ငါးတတန်လျှင် ပျှမ်းမျှUS$(၃၀၀၀)ခန့် တန်ဘိုးရှိကြောင်း စီစစ် သိရှိရပါသည်။ ထို့ကြောင့်" Great International Fisheries Limited "၏ အဆိုပြုချက်တွင်ဖော်ပြထားသော ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်းများမှာ လေ့လာသိရှိချက်နှင့် နှိုင်းယှဉ်ပါက အနည်းငယ် ကွဲလွဲလျှက်ရှိကြောင်း စီစစ်တင်ပြအပ်ပါသည်။

(ဂ)စက်ရုံတွင် တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန် စက်များ၏ Capicity မှာ ငါးပြုပြင်ထုတ်လုပ်ရန်အတွက် Blast Freezer (2T /6 hrs ) 1 No နှင့် ပုစွန်ပြုပြင်ထုတ်လုပ်မည့် Contact Freezer ( 0.5 T / 90 min ) 2 Nos တပ်ဆင်မည်ဖြစ်ကြောင်းညှိနှိုင်း သိရှိရပါသည်။ အဆိုပါစက်များ၏ Capicity အရ အနည်းဆုံး တစ်နေ့ ငါး 4T နှင့် ပုစွန် 1.5T တန် ထုတ်လုပ်နိုင်ကြောင်း စီစစ်သိရှိရပါသည်။ အဆိုပါစက်များကို ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ(၃)ဦး၊ စက်မောင်း (၃)ဦးနှင့် ကုန်ကြမ်းကုန်ချောပစ္စည်းများ ထမ်းပိုးဆောင်ရွက်ရန်အတွက် ကျွမ်းကျင်လုပ်သားနှင့် တဝက်တပျက်ကျွမ်းကျင်လုပ်သား(၁၄၅)ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ကြောင်း စီစစ်တွေ့ရှိရပါသည်။စက်မောင်း(၃)ဦးမှာ အရေအတွက်နည်း၍ နောက်ထပ်(၃)ဦးခန့်ဖြည့်စွက်ခန့်ထားရန်လိုအပ်ပါသည်။သို့မှသာကုန်ချောထုတ်လုပ်မှုနှင့်စက်အင်အား၊လူအင်အား အချိုးအစား လုံလောက်ညီညွတ်မှုရှိမည်ဖြစ်ကြောင်း စီစစ်တင်ပြအပ်ပါသည်။

၆။ ထို့ပြင် အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကိုသန့်စင်သောစနစ်၊ အနံ့ဆိုးများ သန့်စင်မှုစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်များ ဆောင်ရွက်ထားရှိသည့် အစီအမံများကို စီစစ်တွေ့ရှိရပါသည်။

၇။ လပွတ္တာမြို့သစ် အအေးခန်းစက်မှုဇုန်တွင် " Great International Fisheries Limited " အပါအဝင် အအေးခန်းစက်ရုံတည်ဆောက်ရန် တင်ပြလျှောက်ထားသော ကုမ္ပဏီများမှာ (၄)ခုရှိပါသည်။ ကျန်ကုမ္ပဏီများမှာ ဝါဝါဝင်းကုမ္ပဏီ၊ T Z T M ကုမ္ပဏီနှင့် ရွှေယမုန်ကုမ္ပဏီတို့ဖြစ်ပါသည်။ တည်ဆောက်မည့် စက်ရုံမြေနေရာများမှာ ချောင်းမြစ်ကမ်းနံဘေးတွင်ဖြစ်၍ Wase Water Treatment System ဆောင်ရွက်ရန်အတွက် အဆင်ပြေသဖြင့် စက်ရုံ ဆောက်လုပ်ရန်သင့်တော်မှုရှိကြောင်း စီစစ်တွေ့ရှိရပါသည်။"Great International Fisheries Limited " အနေဖြင့် ၂၀၁၀ပြည့်နှစ် မတ်လအတွင်း စက်ရုံတည်ဆောက်မှုလုပ်ငန်းများကို စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း ညှိနှိုင်းသိရှိရပါသည်။

တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ
ရောဝတီတိုင်း - ပုသိမ်မြို့
စာအမှတ်၊ ၅ / ၆ - ၃ / ဦး ၆
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ထောက်ခံချက်ပေးပို့ခြင်း

ရည် ညွှန်း ချက်။ Great International Fisheries Ltd., ၏၃၀-၁၂-၂၀၀၉ရက်နေ့တင်ပြစာ

၁။ ဧရာဝတီတိုင်း၊လပွတ္တာခရိုင်၊လပွတ္တာမြို့တွင်နာဂစ်ပြီးကာလဒေသဖွံ့ဖြိုးရေးအတွက် နိုင်ငံတော်အကြီးအကဲ လမ်းညွှန်ချက်ဖြင့် ဒေသရေထွက်ကုန်လုပ်ငန်းများအတွက် အအေးခန်းစက်ရုံကို Great InternatiOnal Fisheries Ltd.. မှလပွတ္တာမြို့၊ အအေးခန်းစက်ရုံနယ်မြေ၊ အကွက်အမှတ်(**C-6,7,8**) တို့တွင် မြေနေရာရရှိထားပြီး ဖြစ်ပါသည်။

၂။ အဆိုပါကုမ္ပဏီသည် လပွတ္တာမြို့တွင် အအေးခန်းစက်ရုံ လုပ်ငန်းများကိုစတင် တည်ဆောက် လုပ်ကိုင် ဆောင်ရွက်နေသည်မှာ မှန်ကန်ပါကြောင်း ထောက်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
( အေးကျော်၊အတွင်းရေးမှူး )

မိတ္တူကို
လှည့်လည်စာတွဲ
ရုံးလက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

M-121
2511
7/1
08

စာအမှတ်၊ ၃-လစ/ဧရာဝတီ( ၆၃၅ )/၂၀၁၀
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၇ ရက်

သို့

ဝန်ကြီး၊
ဗိုလ်မှူးချုပ်မောင်မောင်သိမ်း
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **<u>လပွတ္တာမြို့နယ်၊ လပွတ္တာမြို့သစ် အအေးခန်းစက်မှုဇုန် ဓာတ်အားသုံးစွဲနိုင်ရေး သဘောထားမှတ်ချက် ပြန်ကြားခြင်း</u>**

ရည်ညွှန်းချက် ။ ၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၁.၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၀၅၈/၂၀၁၀(၅၂၃)

၂။ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက်၏ ၁.၁.၂၀၁၀ ရက်စွဲပါ တင်ပြစာ

၁။ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် (Great International Fisheries Limited) သည် ဧရာဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ လပွတ္တာမြို့သစ်၊ လပွတ္တာအအေးခန်းစက်မှုဇုန် မြေကွက်အမှတ် (C-6, C-7, C-8) ရှိ မြေ ၅.၇ ဧကတွင် တန် ၂၀၀ ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်မည် ဖြစ်ပြီး၊ လုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား တစ်နှစ် ၆၀၀ ကေဗွီအေ လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ပြန်ကြားပေးပါရန် ရည်ညွှန်းစာ ၁ ဖြင့် ညှိနှိုင်း မေတ္တာရပ်ခံခဲ့ပါသည်။

၂။ လျှပ်စစ်ဓာတ်အားသုံးစွဲမှု များပြားသော စက်ရုံ၊ အလုပ်ရုံများနှင့် စက်မှုဇုန်များကို လူနေရပ်ကွက် များနှင့် ရောနှောမှု မရှိစေဘဲ သီးခြားမြေနေရာ ခွဲထုတ်တည်ဆောက်ခြင်း ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား သုံးစွဲမှု၌ အများပြည်သူ သုံးစွဲမှုကို မထိခိုက်စေရန်အတွက် အများပြည်သူကို ပေးသော ဓာတ်အားလိုင်းမှ တဆက် တစ်စပ်တည်း သွယ်တန်းခြင်း မပြုစေဘဲ သီးခြားဓာတ်အားလိုင်းနှင့် ခွဲရုံများကို သက်ဆိုင်ရာ လုပ်ငန်းရှင်နှင့် စက်မှုဇုန်ကော်မီတီတို့၏ အစီအစဉ်ဖြင့် တည်ဆောက်သုံးစွဲရန် ခွင့်ပြုပေးလျှက်ရှိပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၃-လစ/ရောဝတီ( ၆၃၅ )/၂၀၁၀
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၂၇ ရက်

သို့

ဝန်ကြီး၊
ဗိုလ်မှူးချုပ်မောင်မောင်သိမ်း
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **လပွတ္တာမြို့နယ်၊ လပွတ္တာမြို့သစ် အအေးခန်းစက်မှုဇုန် ဓာတ်အားသုံးစွဲနိုင်ရေး သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ ၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၁.၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၀၅၈/၂၀၁၀(၅၂၃)

၂။ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက်၏ ၁.၁.၂၀၁၀ ရက်စွဲပါ တင်ပြစာ

၁။ အပြည်ပြည်ဆိုင်ရာ ကြီးမားကျယ်ပြန့်သော ရေလုပ်ငန်းလီမိတက် (Great International Fisheries Limited) သည် ဧရာဝတီတိုင်း၊ လပွတ္တာမြို့နယ်၊ လပွတ္တာမြို့သစ်၊ လပွတ္တာအအေးခန်းစက်မှုဇုန် မြေကွက်အမှတ် (C-6, C-7, C-8) ရှိ မြေ ၅.၇ ဧကတွင် တန် ၂၀၀ ဆံ့ အအေးခန်းစက်ရုံ တည်ဆောက်မည် ဖြစ်ပြီး၊ လုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား တစ်နှစ် ၆၀၀ ကေဗွီအေ လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ပြန်ကြားပေးပါရန် ရည်ညွှန်းစာ ၁ ဖြင့် ညှိနှိုင်း မေတ္တာရပ်ခံခဲ့ပါသည်။

၂။ လျှပ်စစ်ဓာတ်အားသုံးစွဲမှု များပြားသော စက်ရုံ၊ အလုပ်ရုံများနှင့် စက်မှုဇုန်များကို လူနေရပ်ကွက်များနှင့် ရောနှောမှု မရှိစေဘဲ သီးခြားမြေနေရာ ခွဲထုတ်တည်ဆောက်ခြင်း ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား သုံးစွဲမှု၌ အများပြည်သူ သုံးစွဲမှုကို မထိခိုက်စေရန်အတွက် အများပြည်သူကို ပေးသော ဓာတ်အားလိုင်းမှ တဆက် တစ်စပ်တည်း သွယ်တန်းခြင်း မပြုစေဘဲ သီးခြားဓာတ်အားလိုင်းနှင့် ခွဲရုံများကို သက်ဆိုင်ရာ လုပ်ငန်းရှင်နှင့် စက်မှုဇုန်ကော်မီတီတို့၏ အစီအစဉ်ဖြင့် တည်ဆောက်သုံးစွဲရန် ခွင့်ပြုပေးလျှက်ရှိပါသည်။

၃။ လပ္ပတ္တာမြို့သစ် အအေးခန်းစက်မှုဇုန်တွင် လျှပ်စစ်ဓာတ်အားသုံးစွဲနိုင်ရန်အတွက် လိုအပ်သော လျှပ်စစ်ဓာတ်အားကို အောက်ပါအစီအစဉ်ဖြင့် ရယူနိုင်ပါသည် -

(က) လပ္ပတ္တာမြို့ရှိ ၆၆/၁၁ ကေဗွီ ဓာတ်အားခွဲရုံမှ အအေးခန်းစက်ရုံများသို့ သီးခြား ၆၆ ကေဗွီ ဓာတ်အားလိုင်း၊ ၂.၅ မိုင် သွယ်တန်းပြီး၊ အအေးခန်းစက်မှုဇုန်တွင် ၆၆/၁၁ ကေဗွီ ဓာတ်အားခွဲရုံ ၁ ခု တည်ဆောက်ကာ ဓာတ်အားရယူသုံးစွဲနိုင်ပါသည်။

(ခ) ယင်းဓာတ်အားလိုင်းနှင့် ဓာတ်အားခွဲရုံကို အအေးခန်းစက်မှုဇုန်ရှိ စက်ရုံများမှ စုပေါင်း ကျခံငွေဖြင့် တည်ဆောက်ရန် ဖြစ်ပါသည်။ ယင်းသို့ ၆၆ ကေဗွီ ဓာတ်အားလိုင်းနှင့် ဓာတ်အားခွဲရုံ တည်ဆောက်ခြင်းဖြင့် ဗို့အားအပြည့်အဝ ရရှိနိုင်မည် ဖြစ်ပါသည်။

(ဂ) အထက်အပိုဒ်(က)နှင့် (ခ)ပါ ဓာတ်အားလိုင်းနှင့် ခွဲရုံကို စုပေါင်း တည်ဆောက်ခြင်း မရှိပါက လက်ရှိ အခြေအနေတွင် လပ္ပတ္တာမြို့ရှိ ၆၆/၁၁ ကေဗွီ ဓာတ်အားခွဲရုံမှ ၁၁ ကေဗွီ ဓာတ်အားလိုင်း၊ ၂.၅ မိုင် သွယ်တန်းကာ ဓာတ်အားရယူသုံးစွဲနိုင်ပါသည်။

(ဃ) အထက်အပိုဒ်(ဂ)ပါ ၁၁ ကေဗွီလိုင်းဖြင့် ဓာတ်အားသုံးစွဲနေရာမှ စက်ရုံ ၁ ခုအတွက် ပြဿနာမရှိသော်လည်း အလားတူ စက်ရုံများ များပြားလာပါက ဓာတ်အားနိုင်နင်းမှု ရှိမည် မဟုတ်သဖြင့် အဆိုပါအချိန်တွင် အပိုဒ် (က)ပါ အစီအမံအတိုင်း ၆၆ ကေဗွီ ဓာတ်အားလိုင်းဖြင့် ဓာတ်အားရယူပြီး ၆၆/၁၁ ကေဗွီ ဓာတ်အားခွဲရုံ ၁ ခုအား မဖြစ်မနေ တည်ဆောက်၍ ဓာတ်အားရယူပါမည်ဟု ဝန်ခံကတိပြုရန် လိုအပ်မည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ လပ္ပတ္တာမြို့သစ် အအေးခန်းစက်မှုဇုန်တွင် လျှပ်စစ်ဓာတ်အားသုံးစွဲနိုင်ရန်အတွက် အထက်ပါအစီအမံအတိုင်း ဓာတ်အားလိုင်းနှင့် ခွဲရုံများ တည်ဆောက်တပ်ဆင်ပြီး သုံးစွဲနိုင်မည်ဖြစ်ပါကြောင်း နှင့် အလားတူ အအေးခန်းစက်ရုံများ တည်ဆောက်ရန် ရှိပါက ယခုအချိန်ကတည်းက အဆိုပါ စက်ရုံများ စုပေါင်းပြီး ၆၆ ကေဗွီ ဓာတ်အားလိုင်းနှင့် ၆၆/၁၁ ကေဗွီ ဓာတ်အားခွဲရုံကို တည်ဆောက်လျက် လျှပ်စစ် ဓာတ်အားရယူသုံးစွဲသင့်ပါကြောင်း အကြံပြုပြန်ကြားအပ်ပါသည်။



ဗိုလ်ချုပ်ခင်မောင်မြင့်
ဝန်ကြီး

## မြန်မာ့စီးပွားရေးဘဏ်

ငွေသား

နေ့စွဲ၊ ၅.၁၂.၀၀

လယ်ဂျာအမှတ် ၈-၆၅

[illegible]

၏ စာရင်းသို့

ငွေပေါင်း ကျပ် [illegible]

ငွေပေးသွင်းပါကြောင်း။

| | ကျပ် | ပြား |
|---|---|---|
| ငွေစက္ကူများ [illegible] | ၂၄၀၀၀၀၀/- | |
| ငွေအကြွေများ | | |
| ငွေပေါင်းကျပ် | ၂၄၀၀၀၀၀/- | |

ငွေကိုင် ________ ငွေကိုင်ချုပ် ________

တာဝန်ခံအရာရှိ ________

(ငွေသွင်းသူလက်မှတ်)

အေ- ၁၁ (က)

အမည် ဒေါ်နုနုဝင်း

**GREAT** INTERNATIONAL FISHERIES LIMITED.

No. 46/47, Corner of Myawaddy Min Gyi Street & King Wun Min Gyi Street, Industrial Zone (4), Hlaing Thar Yar Township, Yangon, Myanmar. Ph: / Fax: 0095-1- 685043, 685045



Great International Fisheries Limited

ငါး၊ ပုစွန်ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းစက်ရုံ ဆောက်လုပ်မည့် မြေနေရာ




အအေးခန်းစက်ရုံတည်နေရာပြမြေပုံ

**GREAT** INTERNATIONAL FISHERIES LIMITED.
No. 46/47, Corner of Myawaddy Min Gyi Street & King Wun Min Gyi Street, Industrial Zone (4), Hlaing Thar Yar Township,
Yangon, Myanmar. Ph: / Fax: 0095-1- 685043, 685045

## အလုပ်သမားများအတွက် ကျန်းမာရေးနှင့် သက်သာချောင်ချိရေးဆောင်ရွက်ထားရှိမှုတင်ပြခြင်း

ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ ဇန်နဝါရီလ (၁) ရက်

ကျွန်မတို့၏ Great International Fisheries Limited အတွက် အလုပ်သမား (၂၀၀) ခန့်ရှိမည်ဖြစ်ပါသည်။ အဆိုပါ အလုပ်သမား (၂၀၀) အတွက် အောက်ပါတို့ကို စီစဉ်ဆောင်ရွက်ထားပါသည်။

### ၁။ ထမင်းစားဆောင်

တစ်ထပ်အဆောက်အဦး အလျား ၆၀' × အနံ ၂၅' အကျယ်အဝန်းအား ထမင်းစားဆောင်အဖြစ် သတ်မှတ်ပေးရန်ရှိပါသည်။ သောက်ရေသန့်နှင့် သန့်ရှင်းရေးအတွက် ပစ္စည်းကိရိယာများဖြည့်ဆည်းပေးမည်ဖြစ်ပါသည်။ အလုပ်ချိန် (၁) ဆိုင်းအတွက် တစ်ကြိမ်လျှင် အလုပ်သမား (၁၂၀) ခန့် စားသုံးနိုင်ပါသည်။ လိုအပ်ပါက (၂) သုတ်ခွဲ၍ စားသုံးနိုင်ပါသည်။

### ၂။ ရေအိမ် (သန့်စင်ခန်း)

ကျားသန့်စင်ခန်း ၃ ခန်း၊ မသန့်စင်ခန်း ၆ ခန်း ဖွဲ့စည်းဆောက်လုပ်ပေးပါမည်။ သန့်စင်ခန်းသုံး ရေ၊ ဆပ်ပြာတို့ကိုလည်း ဖြည့်ဆည်းပေးပါမည်။

### ၃။ နားနေခန်း

အမျိုးသမီးများ၏ နားနေခန်း၊ အဝတ်အစားလဲခန်းများ ထားရှိပါသည်။ အမျိုးသားများအတွက် နားနေခန်း၊ အဝတ်အစားလဲခန်းထားရှိပြီး၊ Locker များလည်းထားပေးပါသည်။ ထို့အပြင် အလုပ်သမားများ ရေချိုးနိုင်ရန် ကျား/မ သီးသန့် ရေချိုးခန်းထားရှိပြီး ဆပ်ပြာအစရှိသည့် သန့်ရှင်းရေးသုံးပစ္စည်းများ ပံ့ပိုးပေးပါသည်။

**GREAT** INTERNATIONAL FISHERIES LIMITED.

No. 46/47, Corner of Myawaddy Min Gyi Street & King Wun Min Gyi Street, Industrial Zone (4), Hlaing Thar Yar Township, Yangon, Myanmar. Ph: / Fax: 0095-1- 685043, 685045

## မီးဘေးကြိုတင်ကာကွယ်မှု အထောက်အထားတင်ပြခြင်း

ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ ဇန်နဝါရီလ (၁) ရက်

ကျွန်မတို့၏ Great International Fisheries Limited အနေဖြင့် နိုင်ငံတကာအဆင့်မီ အအေးခန်း စက်ရုံတည်ဆောက်၍ မြန်မာ့ပင်လယ်ပြင်မှ ရေထွက်ကုန်ပစ္စည်းများကို ပြုပြင်အေးခဲ၍ ကုန်ချောပစ္စည်း ထုတ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားခြင်းဖြစ်ပါသည်။

ကျွန်မတို့ ကုမ္ပဏီအနေဖြင့် ရေထွက်ကုန်ပစ္စည်း ပြုပြင်အေးခဲခြင်းလုပ်ငန်း လုပ်ကိုင်ရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အနေဖြင့် ရေဂါလံ (၅၀,၀၀၀) ဆန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည် ဖြစ်ပါသည်။ စက်ရုံအဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ် (RC) Steel Structure တို့ဖြင့် တည်ဆောက်ထားပြီး ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါသည်။ စက်ရုံရှိ နံရံများတွင် ချိတ်ဆွဲထားရှိမည် ဖြစ်ပါသည်။ ထို့ပြင်စက်ရုံတွင် မီးဘေးအန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး၊ ယင်းတို့ကို ဝန်ထမ်းများ တိကျစွာ လိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားရှိပါမည်။ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါသည်။ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ် သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင် လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။ ထို့ပြင် စက်သုံးဆီနှင့် လောင်စာဆီများ သိုလှောင်ထားရာတွင် ကွန်ကရစ်ကန် နှင့် သံမဏိကန်များတွင် ထားရှိပြီး၊ စက်ရုံနှင့် ဝေးကွာသည့် နေရာတွင် ထားရှိမည်ဖြစ်ပြီး၊ တာဝန်ရှိသူမှအပ အခြားသူများ ဖွင့်သန်းသွားလာခြင်း မရှိစေရန် တားမြစ်ထားသည့် အစီအစဉ်များ ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါက်တာနုနုဝင်း

Managing Director

Great International Fisheries Limited

**GREAT** INTERNATIONAL FISHERIES LIMITED.

No. 46/47, Corner of Myawaddy Min Gyi Street & King Wun Min Gyi Street, Industrial Zone (4), Hlaing Thar Yar Township,
Yangon, Myanmar. Ph: / Fax: 0095-1- 685043, 685045

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်၊

ရက်စွဲ ။ ၂၀၁၀ ခုနှစ်၊ ဇန်နဝါရီလ (၁) ရက်၊

အကြောင်းအရာ။ <u>ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ကာကွယ်ထားရှိမှု အစီအစဉ်ကို တင်ပြခြင်း။</u>

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ Great International Fisheries Limited မှ တန် (၂၀၀) ဆန့် အအေးခန်းစက်ရုံကို တည်ဆောက်၍ ရေထွက်ကုန်ပစ္စည်းများကို အေးခဲပြုပြင်ပြီး ထွက်ရှိလာသော ကုန်ချောများ ကို ပြည်ပသို့ တင်ပို့ရောင်းချခြင်း၊ လုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်သည့်အတွက် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရန် သန့်စင်ခန်းများ ထားရှိခြင်း၊ အမှိုက်ပုံးများ၊ အနံ့စုပ်စက်၊ အနယ်စစ်ကန်နှင့် ပုစွန်များမှ ထွက်ရှိသော အညစ်အကြေးများကို စနစ်တကျ စွန့်ပစ်ရန်၊ ရေစီးရေလာကောင်းမွန်စေရန်နှင့် ရေညစ်များ အလွယ်တကူစီးဆင်းစေရန် ရေနုတ်မြောင်းများကို ဂရုတစိုက် ဆောင်ရွက်ထားရှိမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါက်တာနုနုဝင်း

Managing Director

Great International Fisheries Limited

**LFDB Bank Ltd.( Head Office )**
No(654/666), Merchant Road, Pabedan Township, Yangon Division, Myanmar.
Ph : 389365, 375607
Fax : 243240

**NAME** : DR. NU NU WIN W-316
**ADDRESS** : NO(46/47),CORNER OF MYAWADDY MIN GYI & KIN WUN M
**TOWNSHIP** : -
**PHONE** : -

**ACCOUNT NO.**: 0011120014530
**NRC** : 10/MALAMA(N)143240

## Statement Of Transaction For The Month Of November 2009

**Date : 03 December , 2009**

| Date Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| 01 / 11 / 2009 | Opening Balance | | | -568,904,292.17 |
| 05 / 11 / 2009 | By Cash | | 18,000,000.00 | -550,904,292.17 |
| 09 / 11 / 2009 | A:711673 Tr to H-212 | 13,242,500.00 | | -564,146,792.17 |
| 09 / 11 / 2009 | A: 727803 Tr to IBS(G)(KMD)enc | 26,777,466.00 | | -590,924,258.17 |
| 09 / 11 / 2009 | A: 711674 Tr to L-245 | 15,949,186.00 | | -606,873,444.17 |
| 10 / 11 / 2009 | To Cash , 711672 | 36,641,544.00 | | -643,514,988.17 |
| 10 / 11 / 2009 | To Cash , 711675 | 19,001,855.00 | | -662,516,843.17 |
| 10 / 11 / 2009 | A: 727802 Tr to S-153 | 17,242,069.00 | | -679,758,912.17 |
| 13 / 11 / 2009 | A: 727804 Tr to H-212 | 19,296,875.00 | | -699,055,787.17 |
| 13 / 11 / 2009 | A:727806 Tr to IBS(G) KMD Enc: | 36,294,944.00 | | -735,350,731.17 |
| 13 / 11 / 2009 | To Cash , 727805 | 2,492,696.00 | | -737,843,427.17 |
| 17 / 11 / 2009 | A:727808 Tr;to IBS(G) KMD Enc; | 14,958,538.00 | | -752,801,965.17 |
| 18 / 11 / 2009 | To.Cash , 727811 | 4,155,286.00 | | -756,957,251.17 |
| 18 / 11 / 2009 | By Cash | | 38,000,000.00 | -718,957,251.17 |
| 18 / 11 / 2009 | By Cash | | 99,000,000.00 | -619,957,251.17 |
| 18 / 11 / 2009 | To Cash , 727807 | 15,823,500.00 | | -635,780,751.17 |
| 19 / 11 / 2009 | A: 727810 Tr to H-212 | 7,640,212.00 | | -643,420,963.17 |
| 20 / 11 / 2009 | By Cash | | 20,000,000.00 | -623,420,963.17 |

NAME : DR. NU NU WIN W-316 ACCOUNT NO.: 0011120014530
ADDRESS : NO(46/47),CORNER OF MYAWADDY MIN GYI & KIN WUN M NRC : 10/MALAMA(N)143240
TOWNSHIP : -
PHONE : -

## Statement Of Transaction For The Month Of November 2009

Date : 03 December , 2009

| Date Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| 20 / 11 / 2009 | By Cash | | 7,000,000.00 | -616,420,963.17 |
| 20 / 11 / 2009 | By Clearing | | 10,000,000.00 | -606,420,963.17 |
| 23 / 11 / 2009 | A:727813 Tr;to H-212 | 21,237,549.00 | | -627,658,512.17 |
| 23 / 11 / 2009 | A: 727816 Tr to IBS(G)(KMD)enc | 27,243,924.00 | | -654,902,436.17 |
| 23 / 11 / 2009 | To Cash , 727812 | 7,542,071.00 | | -662,444,507.17 |
| 24 / 11 / 2009 | To Cash , 727809 | 16,233,158.00 | | -678,677,665.17 |
| 24 / 11 / 2009 | To Cash , 727814 | 55,837,976.00 | | -734,515,641.17 |
| 24 / 11 / 2009 | A:727815 Tr;to S-153 | 5,686,618.00 | | -740,202,259.17 |
| 26 / 11 / 2009 | A:727817 Tr;to IBS(G) KMD Enc; | 16,671,994.00 | | -756,874,253.17 |
| 30 / 11 / 2009 | A:727818 Tr.to H-212 | 18,474,714.00 | | -775,348,967.17 |
| 30 / 11 / 2009 | A:727820 Tr to IBS(G) KMD Enc: | 17,506,595.00 | | -792,855,562.17 |
| Grand Total | | 415,951,270.00 | 192,000,000.00 | |

No. of Withdrawals : 22
No. of Deposits : 6

Thank You For Banking With LFDB Bank Ltd.( Head Office )

Please report any descrepencies found on your statement immediately.
N.B - Statement will not be sent unless there is a change of transaction.

For LFDB Bank Ltd.( Head Office )
ASSISTANT GENERAL MANAGER
MYANMA LIVESTOCK AND FISHERIES DEVELOPMENT BANK LIMITED.
3/12
Asst: / DY Manager

GREAT INTERNATIONAL FISHERIES LIMITED.
No. 46/47, Corner of Myawaddy Min Gyi Street & King Wun Min Gyi Street, Industrial Zone (4), Hlaing Thar Yar Township, Yangon, Myanmar. Ph: / Fax: 0095-1- 685043, 685045

## ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ - ၃၁. ၁၂. ၂၀၀၉

ကျင်းပသည့်အချိန် - နံနက် (၉း၀၀) နာရီ

ကျင်းပသည့်နေရာ - ကုမ္ပဏီရုံးခန်း

**တက်ရောက်သူများ**

၁။ ဒေါ်နုနုဝင်း

၂။ ဦးစိန်မင်း

၃။ ဦးအောင်ခိုင်

**အစည်းအဝေးဆုံးဖြတ်ချက်များ**

၁။ ရောဝတီတိုင်း၊ လပွတ္တာမြို့၊ လပွတ္တာမြို့သစ်၊ စက်မှုဇုံရှိ ဒေါက်တာနုနုဝင်း ပိုင်ဆိုင်သော မြေကွက်အမှတ် (C-6,C-7,C-8) ကို Great International Fisheries Ltd. မှ အအေးခန်း တည်ဆောက်ရန်အတွက် ၄င်းမြေကွက်အား ဒေါက်တာနုနုဝင်းမှ အဖိုးအခမယူဘဲ သုံးစွဲခွင့်ပြုမည် ဖြစ်ကြောင်းသဘောတူ ဆုံးဖြတ်ကြပါသည်။

၂။ Great International Fisheries Ltd. လပွတ္တာအအေးခန်းစက်ရုံအတွက် လိုအပ်သော ငွေကြေးအား မြန်မာနိုင်ငံမွေးမြူရေးနှင့်ရေလုပ်ငန်းဘဏ်၏ Account WC 316 မှ သုံးစွဲမည်ဖြစ်ကြောင်း သဘောတူကြပါသည်။

ထိုနောက် အစည်းအဝေးမှ ဆုံးဖြတ်ချက်များအား သဘောတူညီကြပြီး အစည်းအဝေးအား နံနက် (၁၁း၃၀) နာရီတွင် ရုပ်သိမ်းလိုက်ပါသည်။

( မှတ်တမ်းတင်သူ ) (အတည်ပြုသူ)

ဦးအောင်ခိုင်
Director

ဒေါက်တာနုနုဝင်း
Managing Director

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

GREAT INTERNATIONAL FISHERIES **LIMITED**

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

### အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

## အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း **လီမိတက်**

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ **ကုမ္ပဏီ၏** အမည်သည် " **အပြည်ပြည်ဆိုင်ရာ ကြီးမား ကျယ်ပြန့်သော ရေလုပ်ငန်း** လီမိတက် " ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ-တည်ငွေရင်းသည် ကျပ် **၅၀,၀၀၀,၀၀၀၀၀၀/-**(ကျပ် - **သန်း ငါး သောင်း** တိတိ) ဖြစ်၍ ငွေကျပ် **၁၀၀၀၀ /-**(ကျပ် - **တစ် သောင်း** တိတိ) တန် အစုရှယ်ယာပေါင်း (**၅၀၀၀၀၀၀**) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များနှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစာအစားများထုတ်လုပ်ခြင်း၊

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားပွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဒေါ်နန္ဒဝင်း<br>အမှတ်-၂၂၊ ပဲခူးကုန်းထိပ်၊ ဈေးကြီး ရပ်ကွက်၊ မော်လမြိုင်မြို့။ | မြန်မာ<br>၁၀/မလမ (နိုင်)<br>၁၄၃၂၄၀ | ၄၄၈၀ | |
| ၂။ | ဦးစိန်မင်း<br>အမှတ်-၁၆၈၊ မဟာဗန္ဓုလလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>ဘီတီအိုင်ချီ<br>၀၀၀၈၅၁ | ၅၁၀ | |
| ၃။ | ဦးအောင်နိုင်<br>အမှတ်-၁၉၊ ၁၆ လမ်း၊ တာမွေ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၂/တမန (နိုင်)<br>၀၀၁၅၁၉ | ၁၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇန္နဝါရီ လ၊ ရက်။ ၃၀

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

[illegible] B.A.,H.G.P. [illegible]
[illegible] အမှတ်စဉ်-[illegible]
[illegible]
[illegible] မြို့နယ်၊ ရန်ကုန်မြို့
[illegible]

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# အပြည်ပြည်ဆိုင်ရာကြီး မဘားကျယ်ပြန့်သော ရေလုပ်ငန်း လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၅၀,၀၀၀,၀၀၀,၀၀၀ /-(ကျပ် - သန်း ငါး သောင်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /-(ကျပ် - တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း၊ (၁၂) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) **ဒေါ်နုနုဝင်း**

(၂) **ဦး စိန်မင်း**

(၃) **ဦး အောင်နိုင်**

(၄)

(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ စည်းကမ်းချက်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ **ဒါရိုက်တာများသည်** ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် **အစည်း**အဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို **ပေါ်**ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်**တူ**နေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးကအတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဒေါ်နုနုဝင်း<br>အမှတ်-၂၂၊ ပဲခူးကုန်း ထိပ်၊ ဈေးကြို့ရပ်ကွက်၊ မေဒီလမ်းမြို့နယ်မြို့။ | မြန်မာ<br>၁၀/မလမ<br>(နိုင်)<br>၁၄၃၂၄၀ | ၄၄၀၀ | (လက်မှတ်) |
| ၂။ | ဦးစိန်မင်း<br>အမှတ်-၁၆၇၊ မဟာဗန္ဓုလလမ်း ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>ဘီတီအိပ်ချ်ဂျီ<br>၀၀၀၇၅၁ | ၅၁၀ | (လက်မှတ်) |
| ၃။ | ဦးအောင်နိုင်<br>အမှတ်-၁၉၊ ၁၆ ၃လမ်း၊ တာမွေ မြို့နယ်၊ ရန်ကုန်မြို့ ။ | မြန်မာ<br>၁၂/တမန<br>(နိုင်)<br>၀၀၁၅၁၉ | ၁၁၀ | (လက်မှတ်) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇန္နဝါရီ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်၊

B.A.,H.G.R.
အမှတ်စဉ်-
လမ်း၊
မြို့နယ်၊ ရန်ကုန်မြို့

## Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in Joint-venture with any local or foreign partners.
   (a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricutural and farm products.
   (b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
   (c) Livestock breeding, processing and canning of livestock products.
   (d) Fishing, preserving, milling, canning and processing of marine products.
   (e) Producing fertilizers, insecticides and animal feeds.
   (f) Manufacturing of personal goods.
   (g) Manufacturing of household goods.
   (h) Manufacturing of vehicles, machineries and spares.
   (i) Manufacturing of arts and crafts, lacquerwares and furniture.
   (J) Manufacturing of construction materials and paints.
   (k) Manufacturing of factory utencils.
   (l) Manufacturing of electrical and electronic goods.
   (m) Manufacturing of textile, garments and clothings.
   (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.

2. To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.
3. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union ofMyanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union ofMyanmar for the time being in force

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Daw Nu Nu Win<br>No(22), Pesigone Zaykyo Ward<br>Mawlamyaing. | Myanmar<br>10/Ma La Ma<br>(Naing)<br>143240 | 4480 | |
| 2. | U Sein Min<br>No(168), Mahabandoola Street,<br>Pazungdaung Township, Yangon. | Myanmar<br>BTHG - 000851 | 510 | |
| 3. | U Aung Khaing<br>No(19), 163rd Street,<br>Tamwe Township, Yangon. | Myanmar<br>12/Ta Ma Na<br>(Naing)<br>001519 | 110 | |

Yangon. Dated the day of January 2009

*It is hereby certified that the persons mentioned above put their signatures in my presence.*

Thantye

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

GREAT INTERNATIONAL FISHERIES LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks.50,000,000,000 /- ( Kyats Fifty Thousand Million Only) divided into(5,000,000) shares of K. 10,000 /- ( Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than (12 ).

The First Directors shall be:-

(1) Daw Nu Nu Win

(2) U Sein Min

(3) U Aung Khaing

(4)

(5)

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

